MIC ၄၀၇
၂၂/၄

M-4300
23/4/14

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၄( ၃၄၁၆ )
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဧပြီ လ ၁၁ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Tae Kwang Myanmar Co.,Ltd မှ CMP စနစ်ဖြင့် Shoes and Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စ

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န - ၉၈၈/၂၀၁၄ (၃၃၇၇-ည)

၁။ ပဲခူးတိုင်းဒေသကြီး၊ စက်မှုဒေသမြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ မြေဧရိယာ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉)ဧကတွင် CMP စနစ်ဖြင့် Shoes and Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းကို ကိုရီးယားနိုင်ငံ Tae Kwang Industrial Co.,Ltd မှ ၉၉% နှင့် ကိုရီးယားနိုင်ငံ Joohwan Park International Company Limited မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co.,Ltd တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌကိုယ်စား အလုပ်သမားညွှန်ကြားရေးဦးစီး ဌာန၊ (ခရိုင်ရုံး) ဦးစီးအရာရှိ၊ ဦးထွန်းမင်းသည် Tae Kwang Myanmar Co.,Ltd မှ ဒေါ်သိမ့်ဥမ္မာထွန်းကို ၂-၄-၂၀၁၄ ရက်နေ့ (၁၀း၀၀) နာရီတွင် တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Tae Kwang Myanmar Co.,Ltd ၏အဆိုပြုချက်ကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| ဖိနပ်အမျိုးအစား | တစ်ရံလိုအပ် ချက်နှုန်းထား | ပုံမှန်လိုအပ်ချက်နှုန်းထား များကိုက်ညီမှုရှိ/မရှိ |
|---|---|---|
| 1. Sport Wear | 948 Gram | ကိုက်ညီမှုရှိပါသည်။ |
| 2. Core Performance | 666 Gram | ကိုက်ညီမှုရှိပါသည်။ |
| 3. Young Athlete | 480 Gram | ကိုက်ညီမှုရှိပါသည်။ |

| ဖိနပ်အမျိုးအစား | အဆိုပြု ထုတ်လုပ်မှုအရေအတွက် | တစ်ရံလိုအပ်ချက် နှုန်းထား | လိုအပ်မည့်ကုန်ကြမ်း အရေအတွက် |
|---|---|---|---|
| 1. Sport Wear | 915,005 pcs | 948 Gram | 867425 Kg |
| 2.CorePerformance | 3,371,095 pcs | 666 Gram | 2245149 Kg |
| 3. Young Athlete | 2,857,400 pcs | 480 Gram | 1371552 Kg |

အဆိုပြုချက်ပါ တစ်ရံလိုအပ်ချက်နှုန်း နှင့် ထုတ်လုပ်မှုအရေအတွက် လိုအပ်မည့် ကုန်ကြမ်းများမှာ ကိုက်ညီမှုရှိပါသည်။

(ခ) **C.M.Pလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ။** အဆိုပြုချက်ပါ C.M.P လက်ခနှုန်းထားများသည် အခြားဖိနပ်စက်ရုံများ နှင့် နှိုင်းယှဉ်ရာတွင် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

| ဖိနပ်အမျိုးအစား | အဆိုပြုချက်ပါ CMPလက်ခနှုန်းထား | လက်ရှိCMPလက်ခနှုန်းထား |
|---|---|---|
| 1. Sport Wear | 10.03 $ | ကိုက်ညီမှုရှိပါသည်။ |
| 2. Core Performance | 7.83 $ | ကိုက်ညီမှုရှိပါသည်။ |
| 3. Young Athlete | 6.66 $ | ကိုက်ညီမှုရှိပါသည်။ |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

| ဖိနပ်အမျိုးအစား | စက်အင်အား အရေအတွက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀)ရက် |
|---|---|---|---|
| 1. Sport Wear | 220-ခု | 2951.62 | 915,005 pcs |
| 2.CorePerformance | 220-ခု | 10874.5 | 3,371,095 pcs |
| 3. Young Athlete | 220-ခု | 9217.41 | 2,857,400 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုပထမနှစ်တွင် အလုပ်သမားအင်အား (၁၉၀၀)ခန့်နှင့် စက်အရေအတွက် (၇၀၀)ခန့်မှာ မမျှတဟုထင်ရသော်လည်း ကော်ကပ်လုပ်သား၊ အမွေးညှပ်အလုပ်သမားများနှင့် အလုပ်သမားအင်အား ပိုမိုအသုံးပြုရ၍ စက်အင်အား နှင့် လူအင်အားအချိုးအစား ညီညွတ်မျှတမှုရှိကြောင်း တွေ့ရှိရပါသည်။

၃။ သို့ဖြစ်၍ Tae Kwang Myanmar Co.,Ltd ကို ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်သဖြင့် CMP စနစ်ဖြင့် Shoes and Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊ အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
ဥက္ကဋ္ဌ
(ပဲခူးတိုင်းဒေသကြီး၊ CMPလုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
(အလုပ်သမားညွှန်ကြားရေးဦးစီးဌာန)
Tae Kwang Myanmar Co.,Ltd
ရုံးလက်ခံ/မျှောစာတွဲ

| |
|---|
| ကြေးနန်းလိပ်စာ - "စီစစ်တိုး" |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

M-4019
19/3/14

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂ ၊ နေပြည်တော်

စာအမှတ်၊စစတ- ဦး / ၇၂၀(၇၃၅/၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၁၈ ရက်

အမှာစာ

အကြောင်းအရာ။ **ကိုရီးယားနိုင်ငံမှ Tae Kwang Industrial Co., Ltd. မှ ၉၉% နှင့် ကိုရီးယားနိုင်ငံမှ Joohwan Park မှ ၁% တို့ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့ ၏ ၁၀-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၉၈၈/၂၀၁၄(၁၆၁၉)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ကိုရီးယားနိုင်ငံမှ Tae Kwang Industrial Co., Ltd. မှ ၉၉% နှင့် ကိုရီးယားနိုင်ငံမှ Joohwan Park မှ ၁% တို့ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်(၃၆-၃၈၊ ၄၈-၅၁၊ ၆၀-၆၃၊ ၆၈-၇၁၊ ၇၆-၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉၈ဧက) ၌ Tae Kwang Myanmar Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ အပေါ် စီးပွားရေး တွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၃-၃-၂၀၁၄ရက်နေ့တွင်ပြုလုပ်သော ( ၁၁/၂၀၁၄ ) ကြိမ်မြောက်အစည်းအဝေးတွင် ဆွေးနွေးညှိနှိုင်းထားသည့် အတိုင်း ပြင်ဆင်ပြီး ဖြစ်သည့် ဘဏ္ဍာရေးရှင်းတမ်းများအား စီးပွားရေးဆိုင်ရာကိစ္စရပ်များ စိစစ်ပေးနိုင်ရန်အတွက် ပြန်လည်ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

၁၈.၃.၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန ရုံးလက်ခံ/မျှောစာတွဲ

M-4314
23/4/2024



| |
|---|
| ကြေးနန်းလိပ်စာ - **"စိစစ်တိုး"** |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂၊ နေပြည်တော်

စာအမှတ်၊စစတ- ဦး/၇၂၁(၉၈၉ /၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီလ ၂၂ ရက်

**အမှာစာ**

အကြောင်းအရာ။ **Tae Kwang Myanmar Co., Ltd မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၀-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၉၈၈/၂၀၁၄(၁၆၁၉)

(၂) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၏ ၁၈-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်-စစတ-ဦး/၇၂၁(၇၃၅/၂၀၁၄)

(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၉-၄-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၉၈၈/၂၀၁၄(၃၉၁၈)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Tae Kwang Myanmar Co., Ltd မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် (၃၆-၃၈၊၄၈-၅၁၊၆၀-၆၃၊၆၈-၇၁၊၇၆-၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေး တွက်ချက်မှု ဆိုင်ရာကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြား လာခြင်းအပေါ် ရည်ညွှန်းချက် (၂) ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ Tae Kwang Myanmar Co., Ltd မှ ဘဏ္ဍာရေးရှင်းတမ်းများအား ပြန်လည် ပြင်ဆင်တင်ပြလာပါသဖြင့် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပေးနိုင်ရန်အတွက် ရည်ညွှန်းချက် (၃) ပါစာဖြင့် ပြန်လည်ပေးပို့လာပါသည်။

၃။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း ( Cash Flow ) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၂.၂၄ % ရှိပြီး ကုမ္ပဏီမှ တွက်ချက် တင်ပြထားသည် နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ခ) Weighted Average Cost of Capital ၆% ဖြင့်တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၀၆၅ ရရှိပြီး အသားတင်လက်ငင်းတန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၄၅.၀၆၇ သန်း ဖြစ်သည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၇ နှစ် နှင့် ၅ လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကိုတွေ့ရှိရပါကြောင်း၊

(ဃ) Tae Kwang Myanmar Co., Ltd သည် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် စီမံကိန်းအား စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၁၀၀ သန်းဖြင့် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်းဝန်ထမ်း (၁၀၆၉၂) ဦး အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်း၊

(စ) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုများ** အတွက် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်းနှင့် အဆိုပါအစီအမံများအား လေးစားလိုက်နာရန် လိုအပ်ပါကြောင်း၊

(ဆ) အဆိုပါရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းဖြင့် နိုင်ငံသားများ၏ အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်မှုမှတစ်ဆင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက် လာနိုင်စေခြင်း၊ ခေတ်မီ နည်းပညာရပ်များ တိုးတက်လာခြင်း၊ နိုင်ငံခြားဝင်ငွေ တိုးတက်ရရှိစေနိုင်ခြင်းတို့ကို တွေ့ရှိရပါကြောင်း၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှလည်း ကွပ်ကဲရန် လိုအပ်ပါကြောင်းနှင့် မြန်မာနိုင်ငံမှ ပြဋ္ဌာန်းထားသည့် စည်းမျဉ်းစည်းကမ်းများ၊ ပြည်တွင်းဥပဒေ လုပ်ထုံးလုပ်နည်းများအား လေးစားလိုက်နာရန် လိုအပ်ပါကြောင်း။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဒေါက်တာကျော်ဆန်း၊ညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

FROM : MES YANGON FAX NO. : 95 1 519681 Apr. 07 2014 02:14PM P6

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

M-4256
22-4-2014

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊မအသ/MIC/၀၁၇၇/၂၀၁၄။
ရက်စွဲ ၊၂၀၁၄ ခုနှစ်၊ဧပြီလ( ၇ )ရက်။

**အကြောင်းအရာ ။ ။Tae Kwang Myanmar Co., Ltd မှ Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်မည့် အဆောက်အဦနှင့် ပက်သက်၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၃.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ရကေ-၆(က)/န-၉၈၈/၂၀၁၄(၃၃၇၇-၄)။

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်ပတ်သတ်၍ ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂၇.၃.၂၀၁၄) ရက်နေ့တွင်ပေးပို့ခဲ့ရာ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ (၃.၄.၂၀၁၄)ရက်နေ့တွင် လက်ခံရရှိခဲ့ပါသည်။

၂။ စာလက်ခံရရှိသောနေ့မှစ၍ Tae Kwang Myanmar Co., Ltd မှ တည်ဆောက်မည့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်မည့် အဆောက်အဦနှင့် ပက်သက်၍ အဆောက်အဦ၏ Bill of Quantity List & Drawings များအား အမြန်ဆုံးလာရောက်ပေးပို့ပါရန် အကြောင်းကြားထားပါသည်။

၃။ သို့ဖြစ်ပါ၍ Tae Kwang Myanmar Co., Ltd ၏ Bill of Quantity List & Drawing များအား လက်ခံရရှိပြီးပါက အမြန်ဆုံးစိစစ်၍ သဘောထားမှတ်ချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းနိုင်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - အတွင်းရေးမှူး ၊ M.I.C Project Assessment Committee, Myanmar Engineering Society
- ရုံးလက်ခံ၊ မျှောစာတွဲ

M-4334
24/4/14


# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

Managing Director

Tae Kwang Myanmar Co., Ltd

စာအမှတ် ၊ မအသ/MIC/၈၈၃၆ / ၂၀၁၄ ။

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ဧပြီလ၊ ( ၂၄ )ရက်။

**အကြောင်းအရာ။ ။ Tae Kwang Myanmar Co.,Ltd ၏ လုပ်ငန်းအဆောက်အဦအတွက် လိုအပ်လျှက်ရှိသောအဆောက်အဦပုံစံများနှင့် BQ များတောင်းခံခြင်း။**

ရည်ညွှန်းချက်။ ။(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၃.၂၀၁၄ ရက်စွဲပါ စာအမှတ်ရကာ-၁/န-၉၈၈/၂၀၁၄ (၃၃၇၇-၄)

(၂) Tae Kwang Myanmar Co.,Ltd ၏ ၁၀.၄.၂၀၁၄ ရက်စွဲပါ

စာအမှတ် Tae Kwang/MIC/2014(007)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၁)ပါစာဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာသင်းသို့ Tae Kwang Myanmar Co.,Ltd ၏ Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အကြောင်းကြားလာပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် Tae Kwang Myanmar Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီး အဆောက်အဦပုံစံများအားလုံးပြီးစီးပါက မြန်မာနိုင်ငံအင်ဂျင်နီယာစိစစ်ရေးဘုတ်အဖွဲ့သို့ တင်ပြပြီး လမ်းညွှန်မှုများနှင့်အညီ ဆက်လက်တင်ပြဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြု စာပေးပို့ခဲ့ပါသည်။

၃။ Tae Kwang Myanmar Co.,Ltd ၏ Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း၏ အဆောက်အဦပုံစံများနှင့် Bill of Quantity အားပေးပို့ပြီးပါက မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှစိစစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပြန်ကြားပြီးမှသာလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Shoes & Semi-finished Shoes လုပ်ငန်းအားစိစစ်ပြီးသဘောထားမှတ်ချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားနိုင်ရန် လိုအပ်လျှက်ရှိသော အဆောက်အဦပုံစံများနှင့် BQ များအား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ဆောလျှင်စွာပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဝင်းနိုင်
( ဥက္ကဋ္ဌ )
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - ညွှန်ကြားရေးမှူးချုပ် ၊မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
- အတွင်းရေးမှူး ၊ M.I.C Project Assessment Committee, Myanmar Engineering Society
- ရုံးလက်ခံ၊ မျှောစာတွဲ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

Managing Director

Tae Kwang Myanmar Co.,Ltd

စာအမှတ် ၊ မအသ/MIC/ ၀၈၇၆ / ၂၀၁၄ ။

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ မေလ၊ ( ၅ )ရက်။

အကြောင်းအရာ ။ **Tae Kwang Myanmar Co.,Ltd ၏လုပ်ငန်းအဆောက်အဦအတွက် လိုအပ်ချက်ရှိသော အဆောက်အဦပုံစံများ တောင်းခံခြင်း။**

ရည်ညွှန်းချက်။ Tae Kwang Myanmar Co.,Ltd ၏ ၂၉.၄.၂၀၁၄ ရက်စွဲပါ စာအမှတ်Tae Kwang/MIC/2014(009) ။

၁။ အထက်ပါအကြောင်းအရာကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ၂၉.၄.၂၀၁၄ရက်နေ့တွင်လက်ခံရရှိခဲ့ပါသည်။

၂။ ၎င်းစာနှင့်အတူပူးတွဲပေးပို့လာသော Drawing မှာ A4 Size ဖြင့်ပို့သာဖြစ်ပြီး အခြားလိုအပ်သောပုံစံများ မပြည့်စုံသောကြောင့် ပူးတွဲပါပုံစံ(၄)ပါအချက်အလက်များအား ဖြည့်ဆည်းပေးပြီး မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ (၃)ရက်အတွင်းပြန်လည်ပြန်ကြားပေးရန် အကြောင်းကြားပါသည်။

ပူးတွဲ – (၁) ပုံစံ(၄)အင်ဂျင်နီယာပိုင်းဆိုင်ရာအချက်အလက်များ

(၂) ပေးပို့ထားသော Drawing

(ဝင်းနိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – ညွှန်ကြားရေးမှူးချုပ်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ/မျှောစာတွဲ

ပုံစံ(၄)

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်သွင်းရာတွင် လိုအပ်သည့်အင်ဂျင်နီယာပိုင်းဆိုင်ရာအချက်အလက်များ

၁။ ကုမ္ပဏီ (က) အမည် -

(ခ) လိပ်စာ -

၂။ စီမံကိန်း (က) အမည် -

(ခ) တည်နေရာ -

## အဆောက်အဦနှင့်မြို့ပြဆိုင်ရာလုပ်ငန်းများအတွက်စိစစ်ရန်လိုအပ်သောအချက်များ

၃။ အဆောက်အဦ (Building)
- a. Mixed ☐ , Hotel ☐ , Commercial ☐ , Industrial ☐ , Residential ☐
- b. Size of Building
- c. Number
- d. Storey

၄။ အဆောက်အဦအမျိုးအစား (Type of Building)
R.C ☐ , Steel Structure ☐ , Timber ☐ , Other …………

၅။ ပုံစံများ (Conceptual Drawings)
( A-3 size အရွယ် Print and Soft Copy ပေးရန် )
- a. Location Map
- b. Layout Plan
- c. Perspective View
- d. Front Elevation
- e. Side Elevation
- f. Back Elevation
- g. Sections
- h. Floor Plans ( Ground, First, Second, ………….)

၆။ မြေအောက်ထပ် (Basement)
0 ☐ ,1 ☐ ,2 ☐ ,3 ☐ ,Others …………

၇။ Type of Foundation
Isolated Footing ☐, Mat Foundation ☐ ,Driven Pile ☐,Push Pile ☐ , Bored Pile ☐ , Other…..

၈။ ကြမ်းခင်းဧရိယာ (Floor Area)
- a. Plot Area ---------------------------sq-ft or sq-m
- b. Plinth Area ---------------------------sq-ft or sq-m
- c. Total Floor Area ---------------------------sq-ft or sq-m

၉။ စုစုပေါင်းကုန်ကျစရိတ်တန်ဖိုး (Cost)
------------------------------local currency/foreign currency

၁၀။ နိုင်ငံခြားမှတင်သွင်းမည့်ပစ္စည်းစာရင်း အဓိကဆောက်လုပ်ရေးပစ္စည်းများ
- a. Cement ----------------ton
- b. Reinforcing Bar ----------------ton
- c. Structural Steel ----------------ton
- d. Others ----------------ton

# TAE KWANG INDUSTRIAL CO.,LTD

(Incorporated in the Republic of Korea)
ADDRESS 265-5 An-dong Gimhae-si, Gyeongsangnam-do, Korea

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

စာအမှတ်။ ။ TKM/MIC/2014 ( 010 )
ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ မေလ ( ၉ )ရက်

အကြောင်းအရာ ။ ။ Tae Kwang Myanmar Co.,Ltd ၏လုပ်ငန်း အဆောက်အဦးအတွက် လိုအပ်လျှက်ရှိသောအဆောက်အဦးပုံစံ များတောင်းခံခြင်း

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း ၏ ၆ . ၅. ၂၀၁၄ ရက်စွဲပါ စာအမှတ် မအသ/MIC/၀၈၇၆/၂၀၁၄

Tae Kwang Myanmar Co.,Ltd ၏ လုပ်ငန်းအဆောက်အဦးအတွက်လိုအပ်လျှက်ရှိသော အချက်အလက်များအား ပြန်ကြားပေးပါရန် အထက်ပါစာဖြင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ အကြောင်းကြားသည့်စာကို လက်ခံရရှိပါသည်။

Tae Kwang Myanmar Co.,Ltd မှ ဆောက်လုပ်မည့်အဆောက်အဦး ကို ကိုရီးယားနိုင်ငံတွင် အဆောက်အဦးပုံများ၊ လိုအပ်ချက်များရေးဆွဲ လျှက်ရှိပါ၍ အချို့အချက်အလက်များမှာ တင်ပြနိုင်ခြင်း မရှိသေးပါကြောင်းနှင့် အချက်အလက်ရရှိ နိုင်သမျှ သာစုစည်း ၍ ကနဦး ပေးပို့အပ်ပါသည်။

အခြားအချက်များကို မေလအတွင်း အပြီးရေးဆွဲ ၍တင်ပြပေးသွားမည်ဖြစ်ပါကြောင်း နှင့် အဆောက်အဦးလိုအပ်ချက် များကို မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းသို့ တင်ပြ၍ လမ်းညွှန်ချက်အရသာ ဆက်လက်ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Mr.Joohwan Park
Promoter

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

M-3796
10/6
M-4744
17/6

စာအမှတ် ၊ မအသ / MIC / ၀၉၆၃ / ၂၀၁၄။
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ၊ ( ၄ ) ရက်။

**အကြောင်းအရာ။** **။ပဲခူးတိုင်းဒေသကြီး၊ ပဲခူးစက်မှုဒေသ၊ မြေကွက်အမှတ်(၃၆၊၃၇၊၃၈၊၄၈၊၄၉၊၅၀၊၅၁၊၆၀၊၆၂၊၆၃၊၆၈၊၆၉၊၇၀၊၇၁၊၇၆၊၇၇) ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ(၈၆.၉)တွင် တည်ဆောက်မည့် Shoes& Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ခုနှစ်၊ မတ်လ(၂၇)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၁/န-၉၈၈/၂၀၁၄ (၃၃၇၇-၄)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Tae Kwang Myanmar Co.,Ltd မှ ၂၀၁၄ခုနှစ်၊ မတ်လ(၂၇)ရက်စွဲဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးစက်မှုဒေသ၊ မြေကွက်အမှတ်(၃၆၊၃၇၊၃၈၊၄၈၊၄၉၊၅၀၊၅၁၊၆၀၊၆၂၊၆၃၊၆၈၊၆၉၊၇၀၊၇၁၊၇၆၊၇၇) ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ(၈၆.၉)တွင် တည်ဆောက်မည့် Shoes& Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့် ပက်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပက်သက်၍ (၃-၄-၂၀၁၄)ရက်နေ့မှ (၃-၆-၂၀၁၄) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ပဲခူးတိုင်းတွင် တည်ဆောက်မည့် စက်ရုံတည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | သံချောင်းလုံးရှယ်စုံ | ၁၁၁၆ | ၃၉၅၂ | **၁၁၁၆** |
| ၂။ | သံနှင့်သံထည်ပစ္စည်း | ၃၄၁၀ | ၃၀၇၂ | **၃၀၇၂** |
| ၃။ | သံမဏိပုံစံခွက် | ၃၇၉၇၈ $m^2$ | ၃၀၉၆ $m^2$ | **၃၀၉၆** $m^2$ |
| ၄။ | Colour Sheet | ၁၈၆၀၉၅ $m^2$ | ၁၂၉၄၁၃ $m^2$ | **၁၂၉၄၁၃** $m^2$ |

Ton = တန် , $m^2$ = စတုရန်းမီတာ

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) အဆောက်အဦပိုင်းတွင် အသုံးပြုမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းဖြစ်သော ဘိလပ်မြေကို ပြည်တွင်းမှသာ ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(၃) လျှပ်စစ်ပိုင်းနှင့်ပက်သက်၍ Install Transformer 2000 KVA + 1500 KVA + 1500 KVA= 5000 KVA To be Imported List တွင် Genset 10Nos. (Capacity ဖော်ပြမထားပါ။) သို့ဖြစ်ပါ၍ Genset Capacity အား ဖော်ပြပေးရန်လိုမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

(၄) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

;(ဝင်းခိုင်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, Tae Kwang Myanmar Co.,Ltd
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ (၃၃၂၇-၁၈)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၇ ရက်

သို့

ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃) ပါ ပြဋ္ဌာန်းချက် နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ် အစိုးရမှ ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံ ပေးပါရန် နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အပိုဒ်(၄၄)နှင့် အညီ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန် အဆိုပြုလွှာ(တစ်)စုံအား ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/ မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိ။

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

Tae Kwang Myanmar Co., Ltd. for Yangon Division

၄။ Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
Tae Kwang Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

Myanmar Investment Commission

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ (၃၃၇၇-၈)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၇ ရက်

**သို့**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဇုန်၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃) နှင့် (၄၅) ပါ ပြဋ္ဌာန်းချက် နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာန၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြားပေးပါရန်နှင့် Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။

ဥက္ကဌ (ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
Tae Kwang Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

☏ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖶 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ (၃၃၇၇-ဈ)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၇ ရက်

သို့

**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဇုန်၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၆)ပါ ပြဋ္ဌာန်း ချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူ ရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြားပေးပါရန်နှင့် Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ချို့ချို့ဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
Tae Kwang Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ (၃၃၇၇-ည)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၇ ရက်

သို့

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၆)ပါ ပြဋ္ဌာန်း ချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရ ယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါအချက် များအပေါ် သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါ ရန်နှင့် Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။ ရည်ညွှန်းစာပါအဆိုပြုလွှာတစ်စုံအား ပူးတွဲပေးပို့ အပ်ပါသည်-

(က)CMPကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိ-မရှိ။
( ခ )CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ- မရှိ။
( ဂ )နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/ လူအင်အား အချိုးအစား ညီမျှမှု ရှိ- မရှိ။

ဥက္ကဋ္ဌ (ကိုယ်စား)
(ချိုချို၀င်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
Tae Kwang Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

Tae Kwang Myanmar Co., Ltd for CMP Comittee
Inv-1

Myanmar Investment Commission

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**


☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷 ၉၅-၆၇-၄၀၆၃၃၃


စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ (၃၃၇၇-၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၇ ရက်

သို့

**မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၆)ပါ ပြဋ္ဌာန်း ချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရ ယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါအချက် များအပေါ် သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါ ရန်နှင့် Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
Tae Kwang Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

Tae Kwang Myanmar Co., Ltd for Construction- Copy
Inv-1

o/c



**ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

☎ -၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷-၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ ( ၃၉၁၈ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီလ ၉ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန**

အကြောင်းအရာ။ **ဘဏ္ဍာရေးရှင်းတမ်းများအားပြင်ဆင်၍ပြန်လည်ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၃-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၉၈၈/၂၀၁၄(၁၆၁၉)
(၂) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၏ (၁၈-၃-၂၀၁၄) ရက်စွဲပါ စာအမှတ် စစတ-ဦး/ ၇၂၁(၇၃၅/၂၀၁၄)

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် Mr. Joohwan Park သည် ၁ % တို့ဖြင့် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၃-၃-၂၀၁၄ ရက်နေ့ တွင် ပြုလုပ်သော (၁၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ အစည်းအဝေး မှ ဘဏ္ဍာရေးရှင်းတမ်းများအား ပြင်ဆင်၍ ပြန်လည်ပေးပို့ပါရန် ဆုံးဖြတ်ခဲ့ပြီး ရည်ညွှန်းချက် (၂) ပါစာ ဖြင့် အကြောင်းကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ ကုမ္ပဏီမှ ဘဏ္ဍာရေးရှင်းတမ်းများအား ပြင်ဆင်၍ ပြန်လည်ပေးပို့လာခြင်း အပေါ် လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။ Tae Kwang Myanmar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးအောင်မြတ်သူ (၀၉-၄၂၀၇၄၆၄၅၁) ဖြစ်ပါသည်။

၁ | ၁
၉/၄/၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
📠 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၉၈၈/၂၀၁၄ ( ၁၆၂၀ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၁၀ ရက်

သို့

ကုမ္ပဏီများညွှန်ကြားမှုဌာန

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ Tae Kwang Myanmar Co., Ltd. ၏ (၁၀-၃-၂၀၁၄) ရက်စွဲ ပါစာ

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % တို့သည် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဒေသ၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုချက် တင်ပြလာမှုအား သိသာနိုင်ပါရန်နှင့် လိုအပ်သလိုဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

၁၀-၃-၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စန်းစန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ လုပ်ငန်းလိုင်စင်ထုတ်ပေးမည်ဖြစ်ပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးသိန်းဇော်မှ နိုင်ငံခြားသား များအား ရောင်းဝယ်ရေးလုပ်ငန်း ခွင့်ပြုထားခြင်း မရှိသေးပါကြောင်း၊ Terminal Business လုပ်ငန်း တစ်ခုသာ ဆောင်ရွက်နိုင်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည် မှ အဆိုပြုလုပ်ငန်းအတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း၊ လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း၊ ကျန်းမာရေး ထိခိုက်မှု ဆန်းစစ်ခြင်း ပြုလုပ်ရန် လိုအပ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူ ဦးဝေလျှံမင်း မှ အဆိုပြုချက်အား တင်ဒါအောင်မြင်သည့် ကုမ္ပဏီ အမည်ဖြင့် ပြင်ဆင်၍ ပြန်လည်တင်ပြမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Puma Energy Asia Sun Company Limited တည်ထောင်ကာ ကတ္တရာနှင့် ရေနံဆက်စပ်ပစ္စည်းများ တင်/ချ ဆိပ်ခံတံတား နှင့် အထောက် အကူပြု အဆောက်အအုံများ တည်ဆောက်၍ B.O.T စနစ်ဖြင့် ကတ္တရာနှင့် ရေနံထွက်ကုန်ပစ္စည်း များအား သိုလှောင်ခြင်း၊ ပြည်ပမှ တင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း နှင့် ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါ သည်-

(က) အဆိုပြုချက်အား တင်ဒါအောင်မြင်သည့် ကုမ္ပဏီ အမည်ဖြင့် ပြင်ဆင်၍ ပြန်လည် တင်ပြ ရန်၊

(ခ) လုပ်ငန်းအမျိုးအစားအား ဆိပ်ခံတံတား နှင့် သိုလှောင်ကန် တည်ဆောက်ရန်အတွက်သာ ပြင်ဆင်ဖော်ပြရန်၊

(ဂ) စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရန်နှင့် သဘောထားမှတ်ချက်များ စုံလင်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြရန်၊

(ဃ) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ၊ လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း အစီအစဉ်အား ရေးဆွဲတင်ပြရန်၊

၈။ **ရာခိုင်နှန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်မှ အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ Director Mr. Huang Ji Lee မှ အားကစားဖိနပ်များနှင့် အခြားဖိနပ်များ ထုတ်လုပ်မည့် လုပ်ငန်း ဖြစ်ကြောင်း၊ Nike တံဆိပ်ဖြင့် ထုတ်လုပ်ခြင်း ဖြစ်ကြောင်း၊ ဗီယက်နမ်နိုင်ငံတွင် ၁၉၉၄ ခုနှစ် မှ စတင်၍ အလုပ်သမား ၂၅,၀၀၀ နှင့် ဆောင်ရွက်ခဲ့ခြင်း ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတွင် အလုပ်သမား ၁၁၀၀ ဦးဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဖိနပ်စက်ရုံကို US$ သန်း (၁၀၀) ဖြင့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြသည်။

စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးဆန်းမြင့် မှ ကုမ္ပဏီ၏ IRR တွက်ချက်မှု ကွာဟသည့်အတွက် ပြင်ဆင်ပေးရန်လိုကြောင်း၊ Interest Rate ကို ထည့်တွက်ထားခြင်း ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဒုတိယရုံးအဖွဲ့မှူး ဦးမြင့်နိုင် မှ စက်ရုံဇုန်တွင် ဝန်ထမ်းအိမ်ယာ ဆောက်လုပ်ခွင့်မပေးပါကြောင်း၊ စံချိန်စံညွှန်းကိုက်ညီအောင်တင်ပြရန်ဖြစ်၍ ဗီယက်နမ်နိုင်ငံတွင် Standard ထားရှိလျှင် သိလိုကြောင်း ဆွေးနွေးပြောကြား ပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဦးသန်းဗိုလ်မှ ချေးငွေရယူခြင်းအတွက် အတိုးနှုန်းပေါ်တွင် withholding tax ၁၀% ပေးရမည် ဖြစ်ကြောင်း ပြောကြားပါသည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ကြည်ကြည်ဝင်းမှ သက်ဆိုင်ရာ မြို့နယ်တွင် အလုပ်သမား မှတ်ပုံတင်ရမည်ဖြစ်ပါကြောင်း၊ အလုပ်ရှင် အလုပ်သမားစာချုပ် ချုပ်ဆိုရမည် ဖြစ်ကြောင်း၊ အလုပ်သမားများ၏ လစာ အလုပ်သမားများ၏ welfare အတွက် စီစဉ်ထားမှုကို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်မှ လုပ်ငန်း တွင် Leather သုံးမည် ဖြစ်၍ IEE လုပ်ရန် လိုပါကြောင်း ဆွေးနွေးပါသည်။

စက်ကျူနှင့်အိမ်သုံးလုပ်ငန်း၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်ခင်သိန်းသိန်းမှ Raw Material Norm မှာ ပထမနှစ်(၅) တွင် မှန်ကန်မှုရှိသော်လည်း၊ (၆)နှစ်မြောက်မှစ၍ Norm တွက်ချက်မှု ပြင်ဆင်ရန်လိုကြောင်း ဆွေးနွေး ပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်မှ ငွေကြေးအထောက်အထားတွင် ကုမ္ပဏီအမည်ကို Taekwang ဟု တွဲရေးထားကြောင်း၊ CSR ၂ % လုပ်ဆောင်ပေးရန် လိုကြောင်း၊ ကုန်ကြမ်းကို မည်သည့်နိုင်ငံသို့ ပို့ဆောင်မည်ကိုသိလိုကြောင်း ဆွေးနွေး ပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဦးဝင်းတင် မှ ရှေ့နေချုပ်ရုံး သဘောထားတွင် ဗီယက်နမ်နိုင်ငံ ဖြစ်နေကြောင်း၊ ပဲခူးတိုင်းဒေသကြီးစာတွင် မြေ (၈၅ ဧက)

ဟုဖော်ပြထားပြီး မြေငှားစာချုပ်တွင် (၈၆.၉ ဧက) ဖြစ်နေကြောင်း၊ မြေဧရိယာ ပြင်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ Director Mr. Huang Ji Lee မှ IRR ကို (၁၀)နှစ်ဖြင့် တွက်ချက်ထားခြင်း ဖြစ်ကြောင်း၊ ဗီယက်နမ်နိုင်ငံတွင် ဖိနပ်လုပ်ငန်းဆောင်ရွက်ပါကြောင်း၊ နှစ်(၂၀)ဖြင့် တွက်လျှင် ၁၃ % ရရှိကြောင်း၊ (၇)နှစ်မှစတင်၍ တွက်ချက်ထားခြင်းဖြစ်ကြောင်း၊ ဗီယက်နမ်နိုင်ငံနှင့် အင်ဒိုနီးရှားနိုင်ငံရှိ စက်ရုံများတွင် စက်မှုလက်မှုဘဏ်မှ ငွေချေးခြင်းဖြင့် ဆောင်ရွက်ခြင်းဖြစ်ကြောင်း၊ သတ်မှတ်ထားသည့် withholding tax အတိုင်းပေးဆောင်မည်ဖြစ်ကြောင်း၊ အလုပ်သမားဥပဒေ အတိုင်း ဆောင်ရွက်မည် ဖြစ်ကြောင်း၊ အလုပ်သမား လစာ၊ ထောက်ပံ့ကြေး၊ အချိန်ပိုကြေးပေါင်းလျှင် US$ ၁၃၀ ပေးမည်ဖြစ်ကြောင်း၊ ပညာရေး ထောက်ပံ့ ပေးမည်ဖြစ်ကြောင်း နှင့် အိမ်ယာများ အခမဲ့ဆောက်လုပ်ပေးမည်ဖြစ်ကြောင်း၊ ဗီယက်နမ်နိုင်ငံတွင် ဝန်ထမ်းများအတွက် အဆောင်ထားပေးခြင်းမရှိကြောင်း၊ တရုတ်နိုင်ငံတွင် အဆောင်ထားပေးပါကြောင်း၊ ဗီယက်နမ်နိုင်ငံ တွင် စက်ရုံနှင့်နီးသောပြင်ပတွင် ဆောက်လုပ်ခွင့် ပေးထားကြောင်း၊ ဝန်ထမ်းများ သွားလာမှုအဆင်ပြေစေရန် ကြို/ပို့ကား စီစဉ်ပေးမည် ဖြစ်ကြောင်း၊ အမျိုးအစားတစ်ခုချင်းစီ အတွက် သုံးမည့် Raw ကို ခွဲခြားဖော်ပြ ပေးမည် ဖြစ်ကြောင်း၊ ကုမ္ပဏီအမည်ကို ခွဲရေး၍ Logo တွင် တွဲရေးထားခြင်းဖြစ်ကြောင်း၊ မိမိတို့၏ ထုတ်ကုန်ကို နိုင်ငံတကာသို့ ဖြန့်ဖြူးမည်ဖြစ်ကြောင်း၊ Korea တွင်မိခင် ဌာနရှိပါကြောင်း၊ မြေတိုင်း ဌာနနှင့် တွက်ချက်ပြီး တိကျသော မြေဧကကို ပြင်ပေးမည်ဖြစ်ကြောင်း ပြန်လည်တင်ပြပါသည်။

အစည်းအဝေးမှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စကိုအောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) IRR တွက်ချက်မှုကို ပြန်လည်ပြင်ဆင်ရန်၊

(ခ ) IEE တင်ပြရန်၊

(ဂ ) မြေဧရိယာအမှန်ကိုပြင်ဆင်ပေးရန်၊

(ဃ) ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ချုပ်ဆိုထားသည့် မြေငှားစာချုပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တင်ပြပေးရန်၊

(င ) သဘောထားများစုံလင်ပြီး တွက်ချက်မှုများ ပြင်ဆင်ပြီးပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်၊

ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(၁) အဆိုပြုချက်အား တင်ဒါအောင်မြင်သည့် ကုမ္ပဏီ အမည်ဖြင့် ပြင်ဆင်၍ ပြန်လည် တင်ပြရန်၊

(၂) လုပ်ငန်းအမျိုးအစားအား ဆိပ်ခံတံတားနှင့် သိုလှောင်ကန် တည်ဆောက်ရန် အတွက်သာ ပြင်ဆင်ဖော်ပြရန်၊

(၃) စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရန်နှင့် သဘောထားမှတ်ချက်များ စုံလင်ပါက မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်၊

(၄) ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ၊ လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း အစီအစဉ်အား ရေးဆွဲတင်ပြရန်၊

(စ) ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်- | အဆိုပြုချက် စိစစ်ရေး ရုံးအဖွဲ့ Tae Kwang Myanmar Co., Ltd.

(၁) IRR တွက်ချက်မှုကို ပြန်လည်ပြင်ဆင်ရန်၊

(၂) IEE တင်ပြရန်၊

(၃) မြေဧရိယာအမှန်ကိုပြင်ဆင်ပေးရန်၊

(၄) ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ချုပ်ဆိုထားသည့် မြေငှားစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တင်ပြပေးရန်၊

(၅) သဘောထားများစုံလင်ပြီး တွက်ချက်မှုများ ပြင်ဆင်ပြီးပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်၊

(ဆ) အစည်းအဝေးမှ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် World Apparel Manufacturing Co., Ltd. (Factory 2) တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန်တင်ပြလာခြင်းကိစ္စအားတစ်ဖက်ပါအတိုင်းဆုံးဖြတ်ပါသည်- | အဆိုပြုချက် စိစစ်ရေး ရုံးအဖွဲ့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ -၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷-၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရကက- ၆(ခ)/န-၉၈၈/၂၀၁၄ (၃၉၁၉)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီလ ၉ ရက်

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်းချက်။ Tae Kwang Myanmar Co., Ltd.၏ (၁၀-၃-၂၀၁၄) ရက်စွဲပါစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ (၁၃-၃-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ ၁၂/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) IRR တွက်ချက်မှုပြန်လည်တင်ပြရန်၊

(ခ) IEE တင်ပြရန်

(ဂ) မြေဧရိယာအမှန်ကိုပြင်ဆင်ပေးရန်

(ဃ) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ချုပ်ဆိုထားသည့် မြေငှားစာချုပ် အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တင်ပြပေးရန်

(င) သဘောထားများစုံလင်ပြီးတွက်ချက်မှုများပြင်ဆင်ပြီးပါကကော်မရှင်အစည်းအဝေးသို့တင်ပြရန်

၃။ သို့ဖြစ်ပါ၍ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးပါရန် ကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

Tae Kwang Myanmar Co., Ltd.
မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊
ပဲခူးစက်မှုဒေသ၊ပဲခူးတိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရက- ၁/န-၉၈၈/၂၀၁၄ ( ၁၆၂၁ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၀ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ မှ Tae Kwang Industrial Co., Ltd သည် ၉၉ % နှင့် ကိုရီးယားနိုင်ငံ မှ Mr. Joohwan Park သည် ၁ % တို့သည် မြန်မာနိုင်ငံတွင် Tae Kwang Myanmar Co., Ltd. တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှုဇုန်၊ ပဲခူးတိုင်းဒေသကြီး ရှိ မြေ ၃၅၁၆၀၇ စတုရန်းမီတာ (၈၆.၉ ဧက) ၌ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းများနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၂၀-၃-၂၀၁၄

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စန်းစန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူး)

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Tae Kwang Myanmar Co., Ltd. မှ CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **Tae Kwang Myanmar Co., Ltd.**<br>- Tae Kwang Industrial Co., Ltd. ၉၉% (ကိုရီးယား)<br>- Mr. Joohwan Park ၁% (ကိုရီးယား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် Shoes & Semi-finished Shoes ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၃၆၊ ၃၇၊ ၃၈၊ ၄၈၊ ၄၉၊ ၅၀၊ ၅၁၊ ၆၀၊ ၆၁၊ ၆၂၊ ၆၃၊ ၆၈၊ ၆၉၊ ၇၀၊ ၇၁၊ ၇၆၊ ၇၇)၊ ပဲခူးစက်မှု ဒေသ၊ ပဲခူးတိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - ၈၆.၉ ဧက (၃၅၁,၆၀၇ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ |
| ၃။ | နှစ်စဉ်မြေနှင့်အဆောက်အဦးငှားရမ်းခ | - ပထမနှစ်အတွက် US$ ၇၀၃,၂၁၄<br>ပထမနှ့်စ် (၁၀)နှစ် အတွက် ၁ နှစ် မြေ တစ်စတုရန်းမီတာ လျှင် US$ ၂ နှုန်း<br>ပထမနှစ် (၁၀)နှစ် အတွက် ၁ နှစ် မြေ တစ်စတုရန်းမီတာ လျှင် US$ ၂.၂၅ နှုန်း<br>ပထမနှစ် (၁၀)နှစ် အတွက် ၁ နှစ် မြေ တစ်စတုရန်းမီတာ လျှင် US$ ၂.၅၀ နှုန်း |
| | မြေငှားရမ်းကာလ | ကနဦး (၅၀)နှစ် (နောက်ထပ် ၁၀နှစ်၂ ကြိမ်) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် (နောက်ထပ် ၁၀နှစ် ၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၅ နှစ် (June-၂၀၁၄-၂၀၁၉ 4 Sections) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US $ ၁၀၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | - US $ (သန်း) |

| | ပြည်ပ Equity | ပြည်ပ Loan | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၂၉.၃၃၅ | | ၂၉.၃၃၅ |
| စက်နှင့်စက်ပစ္စည်း | | ၄၇.၁၉၀ | ၄၇.၁၉၀ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း | | ၂၂.၇၁၉ | ၂၂.၇၁၉ |
| ရုံးသုံးပစ္စည်း | ၀.၆၆၅ | ၀.၀၉၀ | ၀.၇၅၅ |
| **စုစုပေါင်း** | **၃၀.၀၀၀** | **၇၀.၀၀၀** | **၁၀၀.၀၀၀** |

*အတိုး=၆.၅%

